သစ်တောဦးစီးဌာနနှင့် Integrated Technical Systems Co.,Ltd. ကုမ္ပဏီတို့အကြား ချုပ်ဆိုသည့် ပုဂ္ဂလိကသစ်တောစိုက်ခင်းတည်ထောင်ရန် သစ်တောနယ်မြေအတွင်းရှိ မြေ (၂၂၈၃) ဧကအား နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်

ဤမြေငှားစာချုပ် (နောင်တွင် "သဘောတူစာချုပ်" ဟု ခေါ်ဆိုရမည် ) ကို ၂၀၁၆ ခုနှစ်၊ မတ်လ ၂၅ ရက်နေ့တွင် ဒေါက်တာညီညီကျော်၊ ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော် ၊ ရုံးအမှတ်(၃၉)တွင် တည်ရှိသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ယင်းစကားရပ်တွင် တာဝန်အရသော်လည်းကောင်း၊ အစိုးရအရ သော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟုမှတ်ယူရမည်) က တစ်ဖက်နှင့် ဦးမင်းကျွန်းသော မန်နေဂျင်း ဒါရိုက်တာ ကိုယ်စားပြုသော Integrated Technical Systems Co.,Ltd. (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းခေါ် ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် တာဝန်အရသော် သည်းကောင်း၊ အစိုးရအရ သော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့သည် သဘောတူစာချုပ်ကို ... အညီ ပြုလုပ်ချုပ်ဆိုကြပါသည်။

K 50000

## အပိုဒ် ၁ ရည်ရွယ်ချက်

၁-၁ "အငှားချထားသူ" သည် အငှားချထားသူ ... သာပေါင်းမြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်းအတွင်းရှိ တင်ဒါလုပ်ကွက် (၇၇) မြေ (၂၂၈၃) ဧကအား တရားဝင်ပိုင်ဆိုင် (စီမံခန့်ခွဲပိုင်ခွင့်ရှိ)သူဖြစ်ပါသည်၊ အငှားချထားသည့် မြေနှင့် စပ်လျဉ်း၍ မြေပုံနှင့် မြေပိုင်ဆိုင်မှုအထောက်အထားများကို နောက်ဆက်တွဲ(က)ဖြင့် ပူးတွဲ ဖော်ပြပါသည်။

၁-၂ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" ပိုင် အငှားချထားသည့် (စီမံခန့်ခွဲပိုင်ခွင့် ရှိသည့်) မြေကို နှစ်ရှည်ငှားရမ်းပြီး ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်ဆောင်ရွက်ရန် ဖြစ်သည်။

## အပိုဒ် ၂ ရင်းနှီးမြှုပ်နှံမှု

၂-၁ "အငှားချထားခြင်းခံရသူ"သည် အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာကျပ် ၄၉၀၈.၅ သန်း (ကျပ်လေးထောင်ကိုးရာရှစ်ဒသမငါးသန်းတိတိ) ထည့်ဝင်၍ လုပ်ကိုင်ဆောင် ရွက်မည်ဖြစ်ပါသည်။

## အပိုဒ် ၃ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း

၃-၁ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် "အငှားချ ထားသူ"သည် ငှားရမ်းမည့် မြေ(၂၂၈၃) ဧကကို တရားဝင်ပိုင်ဆိုင်ကြောင်း (တရားဝင်စီမံ

ခန့်ခွဲပိုင်ခွင့်ရှိကြောင်း၊ နှင့် ၂၀၁၅ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၁/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ လုပ်ထုံးလုပ်နည်းနှင့်အညီ နှစ်ရှည် ငှားရမ်းရန် ခွင့်ပြုမိန့်ရရှိပြီးဖြစ်ပါသည်။ (နောက်ဆက်တွဲ - ခ )

၃-၂ "အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ကြောင်း အာမခံပါသည်၊ အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့သည် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရလုပ်ပိုင်ခွင့်ရှိသော အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်၊

## အပိုဒ် ၄ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၄-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည် ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန အုပ်ချုပ်ရေး အဖွဲ့များထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

## အပိုဒ် ၅ အငှားချထားသည့် မြေနှင့် မြေငှားရမ်းခြင်း သက်တမ်းကာလ

၅-၁ အငှားချထားသည့်မြေတည်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကိုယ်စား၊ ပတ်ဝန်း ကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံခန့်ခွဲပိုင်ခွင့်ရှိ သော ရောဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ သာပေါင်းမြို့နယ်ရှိ ကျောက်ချောင်းကြိုးကြိုးဝိုင်းဟု သတ်မှတ်ထားသောမြေရှိ **နောက်ဆက်တွဲ(က)ဖြင့်** ဖော်ပြထားသော မြေပုံတွင် အမှတ်အသား ပြထားသည့် ဘောင်အတွင်းရှိ မြေဧရိယာ (၂၂၈၃) ဧက ဖြစ်ပါသည် ။

၅-၂ ဤသဘောတူစာချုပ်ပါ မြေငှားရမ်းခြင်းသက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး(၃၀)နှစ်ဖြစ်သည် ။

၅-၃ အငှားချထားသည့် ကာလတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိ ပြီးမှသာ အတည်ဖြစ်သည် ။

## အပိုဒ် ၆ ငှားရမ်းသက်တမ်းကာလတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း

၆-၁ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် သက်တမ်းကာလမှာ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၅ ရက် မှ ၂၀၄၆ ခုနှစ် မတ်လ ၂၄ ရက်ထိ (၃၀)နှစ် သက်တမ်းဖြစ်ပြီး တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်း (၂) ကြိမ် တိုးမြှင့်နိုင်သည်။

၆-၂ ဤစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားရှိရမည်။ သတ်မှတ်ထား သည့် မှတ်ပုံတင်ကြေးကျသင့်ငွေများကို အငှားချထားခြင်းခံရသူမှ ကျခံရမည် ဖြစ်ပါသည်။



**အပိုဒ် ၇ စာချုပ်သက်တမ်းတိုးခြင်း**

၇-၁ ဤစာချုပ်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှ၍ ကနဦး(၃၀)နှစ်ဖြစ်သည်။ တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့်သက်တမ်း(၂)ကြိမ် တိုးမြှင့်နိုင်သည်။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်းကုန်ဆုံးမည့်အနည်းဆုံး(၃)လကြို တင်၍စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦး(၃၀)နှစ် ငှားရမ်းပြီး နောက်ထပ်သက်တမ်းကာလ တိုးမြှင့် ငှားရမ်းရေးအတွက် နှစ်ဘက်ညှိနှိုင်းဆောင်ရွက်ရမည်။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

**အပိုဒ် ၈ အကျိုးသက်ရောက်သည့်နေ့**

၈-၁ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြု လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

**အပိုဒ် ၉ မြေအသုံးချမှု ပရီမီယံ**

၉-၁ "မြေအငှားချထားခြင်းခံရသူ"သည် မြေအသုံးချမှုအတွက် ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၃၀၀၀၀ (ကျပ်သုံးသောင်းတိတိ) နှုန်းဖြင့် မြေ(၂၂၁၃)ဧကအတွက် ငွေကျပ် ၆၈.၄၉ သန်း (ကျပ်ခြောက်ဆယ့်ရှစ်ဒသမလေးကိုးသန်းတိတိ)ကို "အငှားချထားသူ" သို့ အောက်ဖော်ပြပါအတိုင်း ပေးသွင်းရမည်။

(က) ပထမအရစ်အဖြစ် စုစုပေါင်းပရီမီယံ၏၃၀%ဖြစ်သော ကျပ် ၂၀.၅၄၇ သန်း(ကျပ်နှစ်ဆယ် ဒသမငါးလေးခုနှစ်သန်းတိတိ)ကို သဘောတူ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ပေးသွင်းပြီးဖြစ်ရမည်။

(ခ) ဒုတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ဖြစ်သော ကျပ် ၂၀.၅၄၇ သန်း (ကျပ်နှစ်ဆယ်ဒသမငါးလေးခုနှစ်သန်းတိတိ)ကို သဘောတူစာချုပ် လက်မှတ်ရေး ထိုးချုပ်ဆိုပြီး (၆)လ အတွင်း ပေးချေရမည်။

(ဂ) တတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၄၀% ဖြစ်သော ကျပ် ၂၇.၃၉၆ သန်း (ကျပ် နှစ်ဆယ့်ခုနှစ်ဒသမသုံးကိုးခြောက်သန်းတိတိ) ကို သဘောတူစာချုပ် လက်မှတ်ရေးထိုး ချုပ်ဆိုပြီး (၁၂)လ အတွင်း ပေးချေရမည်။

(ဃ) မြေအသုံးချမှု ပရီမီယံကြေးပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့ စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာန အမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်း အမှတ်၊ MD-010613 သို့ ပေးသွင်းရမည်။

၉-၂ မြေအသုံးချမှု ပရီမီယံကြေးကို သတ်မှတ်ကာလအတွင်း ပေးသွင်းရမည်။ အကယ်၍ သတ်မှတ် ကာလထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေ ကျပ် ၂၀၀၀ (ကျပ်နှစ်ထောင် တိတိ)ပေးဆောင်ရမည်။

**အပိုဒ် ၁၀ နှစ်စဉ်ငှားရမ်းခပေးချေခြင်း**

၁၀-၁ "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့် မြေဧရိယာ (၂၂၈၃)ဧကအတွက် ပထမနှစ် မြေငှားရမ်းခကို တစ်ဧကလျှင် ၄၀၀၀ (ကျပ်လေးထောင်တိတိ) နှုန်းဖြင့် ကျပ် ၉.၁၃၂(ကျပ်ကိုး ဒသမ တစ်သုံးနှစ်သန်းတိတိ)ကို အငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်

ရေးထိုးပြီး ရက်ပေါင်း (၃၀)အတွင်း ပေးသွင်းရမည်။ နောင်နှစ်များ တွင်လည်း နှစ်စဉ် သက်တမ်းမစတင်မီ ရက်ပေါင်း (၃၀) အတွင်း ကြိုတင်၍ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၂၀၀၀၀ (ကျပ်နှစ်သောင်း တိတိ)နှုန်း ပေးဆောင်ရမည်။

၁၀-၂ ကနဦးသက်တမ်းကာလအတွင်း မြေငှားရမ်းခကို (၁၀)နှစ်လျှင် တစ်ကြိမ်ပြင်ဆင်သတ်မှတ်ရန် နှင့် ငှားရမ်းခနှုန်းထားကို လက်ရှိစာချုပ်ပါ ငှားရမ်းခ၏ ၁၀%ထက်မပိုသောနှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်နိုင်သည်။

၁၀-၃ ကနဦးသက်တမ်း ကုန်ဆုံး၍ စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ငှားရမ်းနှုန်းထားကို ကာလ ဒေသပေါက်ဈေးနှင့် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်သတ်မှတ်သည်ဖြစ်သည်။

**အပိုဒ် ၁၁ လုပ်ငန်းအာမခံငွေပေးသွင်းခြင်း**

၁၁-၁ "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့် မြေဧရိယာ (၅၀၀)ဧကအတွက် လုပ်ငန်း အာမခံငွေအဖြစ်တစ်ဧကလျှင် ကျပ်၅၀၀၀၀(ကျပ်ငါးသောင်းတိတိ)နှုန်းဖြင့် ကျပ် ၂၅ သိန်း (ကျပ် နှစ်ဆယ့်ငါးသိန်းတိတိ)ကို အငှားချထားသူထံသို့ သဘောတူ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့တွင် ပေးသွင်းပြီးဖြစ်ရမည် (သို့မဟုတ်) နိုင်ငံပိုင်ဘဏ် (သို့မဟုတ်) မြန်မာ နိုင်ငံတော်ဗဟိုဘဏ်မှ လုပ်ငန်းပြီးမြောက်မှု အာမခံထုတ်ပေးရန် အတွက် အသိအမှတ်ပြုသည့် ပုဂ္ဂလိကဘဏ်တစ်ခုခုတွင် "အငှားချထားခြင်းခံရသူ" နှင့် "အငှားချထား သူ" တို့အကြား လုပ်ငန်းပြီးမြောက်မှုအာမခံငွေကို ကျပ်ငွေဖြင့် ပေးသွင်းပြီး အဆိုပါဘဏ်များမှ ထုတ်ပေးသည့် လုပ်ငန်းပြီးမြောက်မှုအာမခံ (Performance Guarantee) ကို အငှားချထားသူထံသို့ သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့တွင် ပေးပို့ပြီးဖြစ်ရမည်။

၁၁-၂ "အငှားချထားခြင်းခံရသူ"မှ စီမံချက်နှင့်အညီ စိုက်ပျိုးသည့်နှစ် ဒီဇင်ဘာလတွင် ရှင်ပင်ရာခိုင်နှုန်း(၇၀)နှင့် အထက်ရှိမှသာ စိုက်ပျိုးပြီးစီးသည့် ဧရိယာအလိုက် လုပ်ငန်း အာမခံငွေကို "အငှားချထားသူ"မှ "အငှားချထားခြင်းခံရသူ"ထံသို့ ပြန်လည်ထုတ်ပေးရမည်။

**အပိုဒ် ၁၂ အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

၁၂-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်း များထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ခ) အငှားချထားသည့်မြေတွင် ဆောင်ရွက်ခွင့်ပြုထားသော လုပ်ငန်းအား ပိုမိုတိုးတက် ကောင်းမွန်စေရေးဆောင်ရွက်ချက်များ (သဘာဝပတ်ဝန်းကျင် မထိခိုက်စေသော ကိစ္စရပ် များနှင့် စာချုပ်ပါ ကန့်သတ်ထားသော ကိစ္စရပ်များမှအပ) ကို ခွင့်ပြုပေးရမည်။

(ဂ) ပုဂ္ဂလိကစိုက်ခင်းတည်ထောင်ရာတွင် စိုက်ပျိုးခြင်းနှင့် ပြုစုထိန်းသိမ်းကာကွယ်ခြင်းဆိုင် ရာ နည်းစနစ်များကို တောင်းခံလာပါက အငှားချထားသူမှ အကူအညီပေးရမည်။

(ဃ) အငှားချထားခြင်းခံရသူက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ထံသို့ စီမံကိန်းဆိုင်ရာ လုပ်ငန်းများအတွက် အခွန်အခကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် အခြားအထူးခံစားခွင့် များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(င) အငှားချထားခြင်းခံရသူသည် သတ်မှတ်ထားသည့် စည်းကမ်းချက်တစ်ခုခုကို ချိုးဖောက်ပါက စာချုပ်ဖျက်သိမ်းခြင်း၊ အငှားချထားခြင်းခံရသူသို့ လုပ်ကိုင်ခွင့်ပြုထားသည့်မြေကို အငှားချထားသူမှ ပြန်လည်သိမ်းဆည်းရမည်။

အပိုဒ် ၁၃ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

၁၃-၁ အငှားချထားခြင်းခံရသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသောမြေတွင် အငှားချထားသူမှ လက်လွှတ်ခွင့်ပြုသည့် ဧရိယာမှအပ ဧရိယာအားလုံးကို စီမံချက်ပါအတိုင်း အပြည့်အဝ စိုက်ပျိုးရမည်။

(ခ) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါ သစ်မျိုးကိုသာ စိုက်ပျိုးသွားရန်နှင့် ပြောင်းလဲပြင်ဆင်စိုက်ပျိုးလိုပါက အငှားချထားသူထံ (၃)လကြိုတင်၍ တင်ပြရမည်။ အတည်ပြုချက် ရရှိပြီးမှသာ စိုက်ပျိုးခွင့်ရမည်၊

(ဂ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်၏ အပိုဒ်(၉)၊ အပိုဒ်(၁၀)နှင့် အပိုဒ်(၁၁)တွင် ဖော်ပြထားသည့် မြေအသုံးချမှုပရီမီယံ (Land Use Premium )၊ နှစ်စဉ်ငှားရမ်းခငွေ များ (Annual Land Lease Rental)နှင့် လုပ်ငန်းအာမခံငွေ(Deposit)ကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့် ကာလများအတွင်း အငှားချထားသူသို့ မပျက်မကွက် ပေးချေရမည် ။

(ဃ) ခွင့်ပြုမိန့်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသော မြေကိုစာချုပ် သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို သစ်တောဦးစီးဌာန၏ ကြိုတင်သဘောတူညီချက်ရယူ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည် ။

(င) ဤသဘောတူစာချုပ်အား တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းအခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့် မရရှိသေးလျှင် ထိုက်သင့်သော တံဆိပ်ခေါင်း အခွန်များ သမ်းဆောင်ရမည်။

(စ) နိုင်ငံတော်က ချမှတ်သော မူဝါဒများကို လိုက်နာ၍ တရားဥပဒေနှင့် ငြိစွန်းသော လုပ်ငန်းများကို ဆောင်ရွက်ခြင်းမှ ရှောင်ကြဉ်ရမည် ။

(ဆ) အငှားချထားစဉ်အတွင်း မြေခွန်မှအပ လုပ်ငန်းနှင့် သက်ဆိုင်သော အခြားအခွန်အခများကို သက်ဆိုင်ရာ ဌာနများသို့ အချိန်မှန်မှန်ပေးဆောင်ရမည် ။

(ဇ) အငှားချထားခြင်းခံရသူသည် ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိကဝတ်ပြုခဲ့သော ငွေကြေးဆိုင်ရာကိစ္စရပ်များ၊ နည်းပညာနှင့် လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ ကိစ္စရပ်များ၊ ဖွံ့ဖြိုးရေးလုပ်ငန်းဆောင်ရွက်ပေးမည့် အစီအစဉ်များကို မပျက်မကွက်ဆောင်ရွက်ရမည် ။

(ဈ) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(ည) ငှားရမ်းလုပ်ကိုင်ခွင့်ရသည့် မြေပေါ်တွင် ခွင့်ပြုထားသည့် ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်ခြင်းလုပ်ငန်းမှအပ အခြားစည်သည့် လုပ်ငန်းကိုမှ ဆောင်ရွက်ခြင်း မပြုရ။

(ဋ) ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင် ခွင့်ပြုသစ်မျိုးအား အနှောက်အယှက်မပြုသည့် သီးနှံသစ်တောရောနှောစိုက်ပျိုးခြင်း (Agroforestry) လုပ်ငန်းမှအပ အခြားလုပ်ငန်းများကို ခွင့်ပြုချက်မရှိပဲ လုပ်ကိုင်ခြင်းမပြုရ၊

(ဌ) ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေပေါ်တွင်လုပ်ကိုင်မည့် လုပ်ငန်းအခြေအနေဦးစားပေးကို ကြိုတင်ရေးဆွဲပြီး အငှားချထားသူက အတည်ပြုထားသည့် စီမံချက်ပါအတိုင်း သတ်မှတ်ထားသော အချိန်ကာလများနှင့်အညီ ပြီးစီးအောင်ဆောင်ရွက်ရမည်၊ လုပ်ငန်းအခြေအနေ အတိုင်း ခိုင်လုံသောအကြောင်းပြချက်မရှိဘဲ ဆောင်ရွက်နိုင်ခြင်းမရှိဟုယူဆရန် အထောက် အထားများခိုင်လုံပါက လုပ်ကိုင်ခွင့်ကို ပြန်လည်ရုတ်သိမ်းခြင်းခံရမည့်အပြင် သင့်လျော် ပျက်စီးဆုံးရှုံးမှုအတွက် ထိုက်သင့်သော လျော်ကြေးငွေကို ပေးဆောင်ရမည်။

(ဍ) ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသော မြေဧရိယာအတွင်း စီမံချက်ပါ သဘောတူချက်အတိုင်း အပြောင်းရွှေ့ရန်လိုအပ်သည့် ဧရိယာမှအပ ကျန်မြေဧရိယာအတွင်း ပေါက်ရောက်နေသည့် ကျွန်းနှင့် ထားမြင်သစ်ပင်များကို အငှားချထားသူ၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်း၊ ပိုင်းဖြတ်ခြင်း၊ သင်းသတ်ခြင်း၊ ထစ်မှတ်ခြင်း၊ ချိုးဖျက်ခြင်း၊ ဖောက်ထွင်းခြင်း၊ မီးသို့မဟုတ် အခြားနည်းဖြင့် ပျက်စီးစေခြင်း၊ ထုတ်ယူခြင်း၊ သယ်ယူရွှေ့ပြောင်းခြင်းနှင့် လက်ဝယ်ထားခြင်း မပြုရ။

(ဎ) ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေဧရိယာအတွင်း မြေပေါ်မြေအောက် သယံဇာတ ပစ္စည်းများကို တည်ဆဲဥပဒေ တစ်ရပ်ရပ်အရ သီးခြားခွင့်ပြုချက်မရှိဘဲ ရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်ယူခြင်းမပြုရ။

(ဏ) ငှားရမ်းလုပ်ကိုင်ခွင့်ရရှိသည့် သက်တမ်းအတွင်း အငှားချထားခြင်းခံရသူ ကွယ်လွန်လျှင် ၎င်း၏ အမွေဆက်ခံခွင့်ရရှိသူက ခိုင်လုံသော အထောက်အထားများတင်ပြ၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ကိုင် ခွင့်ရှိသည်။

(တ) ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ကိုသော်လည်းကောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက် မရရှိဘဲပေါင်နှံခြင်း၊ ရောင်းချခြင်း သို့မဟုတ် အခြားတစ်နည်းနည်းဖြင့် လွှဲပြောင်းခြင်း မပြုရ။

(ထ) စိုက်ခင်းတည်ထောင်ရာတွင် သဘာဝဝန်းကျင်ယိုယွင်းပျက်စီးခြင်း မရှိစေရေးအတွက် အငှားချထားသူ၏ သစ်တောစိုက်ခင်းတည်ထောင်ခြင်းနှင့် ပြုစုထိန်းသိမ်းခြင်း ဆိုင်ရာ နည်းစနစ်များနှင့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ရမည်။

(ဒ) စိုက်ခင်းမှတ်တမ်းစာအုပ်ထားရှိ၍လုပ်ငန်းဆောင်ရွက်ချက်များကို အသေးစိတ်မှန်ကန်စွာ ဖြည့်စွက်ထားရှိရမည်။ အငှားချထားသူမှ တာဝန်ရှိသူများ အခါအားလျော်စွာ လာရောက် ကြည့်ရှုစစ်ဆေး၍ အကြံပြုချက်များ၊မှတ်ချက်များရေးသားပါက ယင်းအကြံပြုချက်များ၊ မှတ်ချက်များနှင့်အညီ ဆက်လက်ဆောင်ရွက်ရမည်။

SPECIAL ADHESIVE

၅၀၀၀၀ကျပ် K 50000

(ဓ) သစ်တောစိုက်ခင်းအတွင်း ပင်ကျဲပ်နုတ်ခြင်းနှင့် နောက်ဆုံးတောထွက် ထုတ်လုပ်ခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် အငှားချထားသူ၏ ခွင့်ပြုချက်ရယူပြီး သတ်မှတ်ထားသည့် တံဆိပ်အမှတ်အသားများ ရိုက်နှိပ်ပြီးမှ နုတ်ထွင်ခြင်းနှင့် ထုတ်ယူခြင်းပြုရမည်၊

(န) စိုက်ခင်းမှ ထုတ်လုပ်ထွက်ရှိသည့် ဈေး၊ တိုင်၊ သစ်များကို စိုက်ခင်း ဧရိယာအတွင်း၌ အငှားချထားသူက အကောက်တံဆိပ်ရိုက်နှိပ်ပြီးသည့်အခါ သတ်မှတ်စည်းကြပ်သည့် အခွန်ငွေကို ပေးဆောင်ပြီး နိုင်ငံတော်က ချမှတ်ထားသည့်မူဝါဒများနှင့် အငှားချထား သူ၏ စည်းမျဉ်းစည်းကမ်းများနှင့် အညီ ပြည်တွင်း၊ ပြည်ပသို့ ရောင်းချနိုင်သည်၊

(ပ) ပင်ကျဲပ်နုတ်ခြင်းမှ ကြားတောထွက် (Intermediate Yield) အဖြစ် ထုတ်လုပ်ထွက်ရှိ သည့် ဈေး၊ တိုင်၊ သစ်များကို အငှားချထားခြင်းခံရသူမှ ရယူခံစား ခွင့်ရှိပြီး နောက်ဆုံး တောထွက်အဖြစ် ထုတ်လုပ်ထွက်ရှိသည့် သစ်များကို ပြည်တွင်း ပြည်ပသို့ ရောင်းချသည့် အခါ စုစုပေါင်းရရှိသည့် တန်ဖိုး၏ ၁၀% ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ ပေးအပ်ရမည်။(ကျွန်းစိုက်ခင်းအတွက်သာ)

(ဖ) ရော်ဘာစိုက်ပျိုးသည့်နှစ်၌ တစ်ဧကလျှင် ကျွန်း၊ ပျဉ်းကတိုးစသည့် တန်ဖိုးရှိသစ်မျိုး (၄၀) ပင်အား သင့်တင့်သည့် အကွာအဝေးဖြင့် ကြားညှပ်စိုက်ပျိုးရမည်။ (ရော်ဘာစိုက်ခင်း အတွက်သာ)

(ဗ) တည်ထောင်ပြီးစိုက်ခင်းများအားပြုစုထိန်းသိမ်း စောင့်ရှောက်ရန်အတွက် ပျိုးဥယျာဉ်နှင့် ယာယီနေအိမ်/ တဲများမှအပ အခြားအဆောက်အအုံများကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ စိုက်ခင်းအတွင်း ဆောက်လုပ်ခြင်းမပြုရ၊

(ဘ) အငှားချထားခြင်းခံရသူသည် သစ်တောနယ်မြေ (ကြိုးဝိုင်း/ကြိုးပြင်ကာကွယ်တော) အတွင်း ဆက်သွယ်ရေးလမ်း၊ ကုန်ထုတ်လမ်းများ ဖောက်လုပ်မည်ဆိုပါက သစ်တောဦးစီး ဌာန၏ ခွင့်ပြုချက်ရယူပြီး သဘာဝပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး နည်းလမ်းများဖြင့် ဆောင်ရွက်ရမည်။

(မ) အငှားချထားသူမှ ဤစာချုပ်အရ အကျိုးဝင်သော လုပ်ဆောင်မှုများနှင့် ပတ်သက်၍ သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာလျှင် အငှားချ ထားခြင်းခံရသူက ပေးပို့တင်ပြရမည်၊

(ယ) စာချုပ်ပါကာလအတွင်းပြီးစီးအောင် စိုက်ပျိုးခြင်းမပြုသည့်မြေအား ပြန်လည်သိမ်း ယူမည့် အပြင် လုပ်ငန်းအာမခံငွေအား ပြည်သူ့ဘဏ္ဍာအဖြစ် သိမ်းဆည်းခြင်းခံရမည်၊

(ရ) ငှားရမ်းလုပ်ကိုင်ခွင့်ပြုသော မြေအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို နိုင်ငံတော်နှင့် အများပြည်သူ့အကျိုးအတွက်တည်ဆဲဥပဒေနှင့်အညီ ပြန်လည်သိမ်းယူသည့်အခါ သိမ်းယူ သည့် အချိန်ကာလအထိ စိုက်ခင်းတည်ထောင် ဆောင်ရွက်ခဲ့သည့် မူလစိမံချက်ပါ ကုန်ကျစရိတ်အပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ စိစစ်

အတည်ပြုသည့် တန်ဖိုးငွေအား အငှားချထားခြင်းခံရသူက ပေးလျော်ရန်ရှိသည်။ ထိုသို့ သိမ်းယူသည့်အခါ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနက ညွှန်ကြားသည့်အတိုင်း ပြန်လည်အပ်နှံရမည်၊

(ဃ) ငှားရမ်းလုပ်ကိုင်ခွင့်ရသည့် မြေပေါ်တွင် မူလကတည်းကဆောင်ရွက်ခဲ့သော တည်ဆောက်ခြင်း လုပ်ငန်းများ ဆက်လက်ဆောင်ရွက်လိုခြင်း မရှိပါက အငှားချထားသူထံ ပြန်လည်အပ်နှံရမည်။

## အပိုဒ် ၁၄ အာမခံထားရှိခြင်း

၁၄-၁ အငှားချထားခြင်းခံရသူသည်နိုင်ငံသားဖြစ်ပါကဤသဘောတူစာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရာတွင်လုပ်ငန်းလိုအပ်ချက်အရလိုအပ်သော အာမခံများကို မြန်မာ့အာမခံဥပဒေနှင့်အညီ ထားရှိရမည် ။

၁၄-၂ အငှားချထားခြင်းခံရသူသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံသူဖြစ်ပါက မြန်မာ့အာမခံဥပဒေနှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများနှင့်အညီ အာမခံထားရှိရမည်၊

## အပိုဒ် ၁၅ ဓါတ်သတ္တု အရင်းအမြစ်များ

၁၅-၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းသည့် မြေတည်ရှိရာ မြေပေါ်မြေအောက်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ကျောက်မျက်ရတနာများ၊ရှေးဟောင်းယဉ်ကျေးမှု အနုပညာပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာ အရေးပါသော အရာဝတ္ထုများ၊ သဘာဝသယံဇာတများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ချက်ချင်းအကြောင်းကြားရမည်။ ထိုပစ္စည်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်စေရမည်ဖြစ်ပြီး၊ အငှားချထားခြင်းခံရသူသည် သက်ဆိုင်ရာပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရမည်။ ထို့အပြင် အထက်ပါပစ္စည်းများအား နိုင်ငံတော်အစိုးရက လွတ်လပ်စွာ တူးဖော်ရယူပိုင်ခွင့်ရှိစေရမည်။ အဆိုပါကိစ္စရပ်နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၅(င) နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၇(ဆ)ပါပြဋ္ဌာန်းချက်များကို လိုက်နာဆောင်ရွက်ရမည်။

## အပိုဒ် ၁၆ စာချုပ်ရပ်စဲခြင်း

၁၆-၁ စာချုပ်တစ်ဖက်ဖက်သည် အောက်ဖော်ပြပါ အကြောင်းချင်းရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ရပ်စဲ နိုင်သည် -

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း ၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် ပျက်ကွက်သဖြင့် တစ်ဖက်စာချုပ်ဝင်က စာရေးဝင်တဖြင့် အကြောင်းကြားသော်လည်း ရက်ပေါင်း(၃၀)အတွင်း လိုက်နာမှုမရှိခြင်း၊

မြန်မာနိုင်ငံ မြေတိုင်းဝန်ထမ်း
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
K 50000

(ဃ) မလွှဲဆာနိုင်သော ဖြစ်ရပ်များပေါ်ပေါက်ပြီး အဆိုပါ ဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ယ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက် အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း၊

(င) အငှားချထားခံရသူက တင်ပြအတည်ပြုထားသော ရင်းနှီးမြှုပ်နှံသော ငွေကြေးဆိုင်ရာ ကတိကဝတ်များ၊ နည်းပညာနှင့် လုပ်ငန်းဆောင်ရွက်ခြင်းဆိုင်ရာ ကတိကဝတ်များ၊ ဒေသဖွံ့ဖြိုးရေးဆောင်ရွက်ပေးမည့် အစီအစဉ်နှင့် သက်ဆိုင်သော ကတိကဝတ်များ ဖောက်ဖျက်ခြင်း။

၆-၂ ဤသဘောတူစာချုပ်ပါ စာချုပ်ကို ရပ်စဲလိုကြောင်း နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် တင်ပြလာလျှင် စာချုပ်ရပ်စဲခွင့်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာလျှင် အကျိုးသက်ရောက်မှု ရှိစေရမည်။

## အပိုဒ် ၁၇ မြေသို့ ပြန်လည်ဝင်ရောက်ခြင်း

၇-၁ အငှားချထားခြင်းခံရသူက စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့်၊ အငှားချထားသူက ယင်းကဲ့သို့ပျက်ကွက်မှုများကိုပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် အငှားချထားခြင်းခံရသူသို့ နို့တစ် ချအပ်သော နို့တစ်စာပါကာလများ အတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားစာချုပ်နှင့်သက်ဆိုင်အကျုံးဝင်သော သစ်တောမြေတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ ပိုင်ခွင့်ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်မည်ဟူ၍ စာချုပ်ဝင်နှစ်ဦး နှစ်ဖက် သဘောတူညီကြပါသည်။ ဤသို့စာချုပ်ရပ်စဲခြင်း၊ မြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှရရှိမည့် ငှားရမ်းခ (သို့မဟုတ်)ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်း မရှိစေရ။

## အပိုဒ် ၁၈ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၈-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ ဖြစ်စေ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့် နေ့မှစ၍ မြေပေါ်ရှိ မူလအငှားချထားစဉ်က မပါရှိသော စိုက်ပျိုးထားသည့် သစ်ပင်များ အပါအဝင်အားလုံးကို အငှားချထားခြင်းခံရသူ၏ အစီအစဉ်ဖြင့် ရက်ပေါင်း(၉၀)အတွင်း ရှင်းလင်းဖယ်ရှားပြီး၊ အငှားချထားသည့် မြေ(၂၂၈၃)ဧကကို ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရပါမည်။

၁၈-၂ အငှားချထားခြင်းခံရသူသည် အထက်အပိုဒ်(၁၈-၁)ပါ သတ်မှတ်ကာလထက် ကျော်လွန်သည့် တိုင် ပြန်လည်အပ်နှံခြင်းမပြုပါက မူလအငှားချထားစဉ်ကမပါရှိသော စိုက်ပျိုးထားသည့် သစ်ပင် များအပါအဝင်အားလုံးသည် အငှားချထားသူ၏ အပိုင်အဖြစ်အလိုအလျောက်ပြောင်းလဲသွားပြီဟု သတ် မှတ်ရမည်။



## အပိုဒ် ၁၉ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၉-၁ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ငလျင်၊ လေဘေး၊ မီးဘေး၊ ရေကြီးခြင်း စသည့် ဘေးဥပဒ်များ၊ နိုင်ငံတော်အစိုးရ၏ အမိန့်၊ ဥပဒေပြဋ္ဌာန်းချက်များ အရာရှိ/တာဝန်ရှိသူများ၏ အမိန့်၊ ညွှန်ကြားချက်များ စသည်တို့ကြောင့် စာချုပ်ပါ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်သော်လည်း မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှု ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။

၁၉-၂ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ စာဖြင့်ရေးသား အကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ပြီးဆုံးပြီး၊ မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော [illegible] ငှား ရမ်းခကို သက်သာခွင့်ပြုနိုင်သည်။



## အပိုဒ် ၂၀ အငြင်းပွားမှုများ ဖြေရှင်းခြင်း

၂၀-၁ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွား[illegible] နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်း ဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍ မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက မဖြေရှင်း မဆုံးဖြတ် နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီး နှစ်ဦး(သို့မဟုတ်)သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည်အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက် အမှုသည်များအပေါ်၌လည်းအတည်ဖြစ်စေရမည်။ အနုညာတစီရင် ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းများသည် ၁၉၄၄ခုနှစ်မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ(မြန်မာနိုင်ငံ အက်ဥပဒေအမှတ်-၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## အပိုဒ် ၂၁ စာချုပ်အား ပြင်ဆင်ဖြည့်စွက်ခြင်း

၂၁-၁ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့် ကိုက်ညီမှု မရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦး နှစ်ဖက် ညှိနှိုင်းဆွေးနွေး မှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူ ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

## အပိုဒ် ၂၂ လျှို့ဝှက်ချက်

၂၂-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်နှစ်ဦး နှစ်ဖက်စလုံးသည် အရေးကြီးသော စာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြား တတိယအဖွဲ့အစည်း

သို့ လွှဲပြောင်းပေးခြင်းမပြုရ၊ သို့ရာတွင် ကုမ္ပဏီ၏ အကျိုးစီးပွားအလို့ငှာ ခါမိုက်ဗွာအဖွဲ့၏ သဘောတူဆုံးဖြတ်ချက်၊ အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်း ပေးနိုင်ခွင့်ရှိစေရမည်။

## ပုဒ်မ ၂၃ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၃.၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများ အား ကောင်းစွာထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် တာဝန်ရှိသည့်အပြင် လေထု ရေထုနှင့် မြေထုများ ညစ်ညမ်းခြင်း၊ အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက် ပျက်စီးဆုံးရှုံး ခြင်းများအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရမည်။ အစီအစဉ်များကို တည်ဆဲဥပဒေ နှင့်အညီ ဆောင်ရွက်ထားရှိရမည်။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာ အမှတ် ၅၀/၂၀၁၄အရ ဧရိယာ(စော)များပြားသော သစ်တောစိုက်ခင်းနှင့် စက်မှုကုန်ကြမ်း စိုက်ခင်းများ တည်ထောင်ခြင်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်ရယူရာတွင် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်၊

## ပုဒ်မ ၂၄ စာပေးစာယူပြုလုပ်ရန်ကိစ္စ

၄.၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့အကြား ဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေး ပို့ခြင်း၊ အခြားအချက်အလက် အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ဖြစ်စေ၊ အင်္ဂလိပ် ဘာသာဖြင့်ဖြစ်စေ ရေးသားပြီး စာတိုက်မှတ်ပုံတင် ရောစာဖြင့်ဖြစ်စေ၊ တယ်လက်(စ်)ဖြင့် ဖြစ်စေ၊ ဖက်(စ်)ဖြင့် ဖြစ်စေ၊ အီးမေးလ်ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်ရေး နည်းစနစ်ဖြင့် ဖြစ်စေ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည်။ ဆက်သွယ်နိုင်ရန် လိပ်စာမှာ အောက်ဖော်ပြပါ လိပ်စာအတိုင်း လိပ်မူရမည်ဖြစ်ပြီး လိပ်စာပြောင်းလဲခြင်းရှိပါက ချက်ချင်း အသိပေးအကြောင်းကြားရမည် -

(က) "အငှားချထားသူ" အတွက် -

(၁) အမည် — ဒေါက်တာညီညီကျော်
(၂) ရာထူး — ညွှန်ကြားရေးမှူးချုပ်
(၃) လိပ်စာ — ရုံးအမှတ်(၃၉)၊ နေပြည်တော်
(၄) ဖုန်းနံပါတ် — ၀၆၇-၄၀၅၀၁၅
(၅) ဖက်(စ်)နံပါတ် — ၀၆၇-၄၀၅၄၂၇
(၆) E.mail — dg.fd @ mptmail.net.mm




(ခ) "အငှားချထားခြင်းခံရသူ" အတွက် -

(၁) အမည် — ဦးမင်းကွန်တော
(၂) မှတ်ပုံတင်အမှတ် — ၁၂/ဒဂန(နိုင်)၀၀၀၄၅၅
(၃) ရာထူး/အလုပ်အကိုင် — အုပ်ချုပ်မှုဒါရိုက်တာ
(၄) နေရပ်လိပ်စာ — အမှတ်(၈A)၊ ခပေါင်းလမ်း၊ မာတင်ရိပ်သာ၊ ဖြိုင်၊ ပြည်လမ်း၊လှိုင်မြို့နယ်၊ ရန်ကုန်မြို့

"အငှားချထားသူ" "အငှားချထားခြင်းခံရသူ"

(ဒေါက်တာညီညီကျော်)
ညွှန်ကြားရေးမှူးချုပ်

(မင်းကျွန်ထော)
အုပ်ချုပ်မှုဒါရိုက်တာ



အသိသက်သေများ

၁။ လက်မှတ်

အမည် ဦးခင်မောင်ဦး
ရာထူး ညွှန်ကြားရေးမှူး
ဌာန စီမံကိန်းနှင့်စာရင်းအင်းဌာန

၂။ လက်မှတ်

အမည် ဦးမျိုးမင်း
ရာထူး ညွှန်ကြားရေးမှူး
ဌာန သဘာဝဘေဒနှင့်စိုက်ခင်းလုပ်ငန်းဌာန

အသိသက်သေများ

၁။ လက်မှတ်

အမည် ဒေါ်စန္ဒာအောင်
မှတ်ပုံတင်အမှတ် ၁၂/ရကန(နိုင်)၀၁၉၈၅၂
အလုပ်အကိုင် ဒါရိုက်တာ(ITS Co.Ltd)
နေရပ်လိပ်စာ တိုက်(၁၂၄)၊ အခန်း(၂) ရှန်နိုင်လမ်းသွယ်(၄)သမ်း၊ အမှတ်(၄)ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

၂။ လက်မှတ်

အမည် ဒေါ်ဥမ္မာညို
မှတ်ပုံတင်အမှတ် ၁၂/သဃက(နိုင်)၀၂၁၆၇၉
အလုပ်အကိုင် ဒါရိုက်တာ(Aquagold Myanmar Pearl Co.Ltd
နေရပ်လိပ်စာ အမှတ်၁၄၃/ေ ဆုခသာနံ(၃)လမ်း ၁၆/၂၊ သင်္ဃန်းကျွန်းမြို့နယ် ရန်ကုန်မြို့



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

သစ်တောဦးစီးဌာန

အမိန့်ကြော်ငြာစာ

နေပြည်တော်၊ ၁၃၇၆ ခုနှစ်၊ တပို့တွဲလဆန်း ၁၀ ရက်

( ၂၀၁၅ ခုနှစ်၊ ဇန်နဝါရီလ ၂၉ ရက် )

ပြည်တွင်း/ပြည်ပရင်းနှီးမြှုပ်နှံမှုဖြင့် ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်ခြင်း လုပ်ငန်းဆောင်ရွက်ရန် တိုင်းဒေသကြီး/ပြည်နယ်(၈)ခု၏ သစ်တောမြေ(၂၅၁,၅၅၅)ဧက လုပ်ကွက်(၉၇)ကွက်တို့ကို အိတ်ဖွင့်တင်ဒါခေါ်ယူခဲ့ရာ တိုင်းဒေသကြီး/ပြည်နယ်(၆)ခု၏ သစ်တောမြေ(၈၇,၀၇၉)ဧက လုပ်ကွက်(၃၅)ကွက်အား အောက်ဖော်ပြပါလုပ်ငန်းရှင်(၁၉)ဦးတို့မှ တင်ဒါအောင်မြင်သူများ အဖြစ် သတ်မှတ်ကြေငြာလိုက်သည်-

| စဉ် | လုပ်ကွက် | မြို့နယ် | ဧက | တင်ဒါအောင်မြင်သည့် ကုမ္ပဏီ/ အဖွဲ့အစည်းအမည် |
|---|---|---|---|---|
| ၁ | (၅) | ဇန်းဖော် | ၃၅၉၃ | ဦးကိန်ဟုတ် သက်ရတနာဖြိုး |
| ၂ | (၂၀) | ထီးချိုင့် | ၂၃၀၀ | ဒေါ်ခေခေထွေး ကျော်သာစိုက်ပျိုးရေး |
| ၃ | (၂၁) | ထီးချိုင့် | ၁၄၀၀ | ဒေါ်ခေခေထွေး ကျော်သာစိုက်ပျိုးရေး |
| ၄ | (၂၂) | ထီးချိုင့် | ၁၅၂၅ | ဒေါ်ခေခေထွေး ကျော်သာစိုက်ပျိုးရေး |
| ၅ | (၂၆) | တမူး | ၃၀၀၀ | ဒေါ်မော်မော်သိန်း Triple Circle Industry |
| ၆ | (၂၇) | တမူး | ၂၂၀၀ | ဒေါ်မော်မော်သိန်း Triple Circle Industry |
| ၇ | (၃၃) | ခိုက်ဦး | ၁၇၄၀ | ဦးအောင်သိန်းမြင့် မိုးကြိုးကုမ္ပဏီ |
| ၈ | (၃၄) | ခိုက်ဦး | ၁၀၀၀ | ဦးအောင်သိန်းမြင့် မိုးကြိုးကုမ္ပဏီ |
| ၉ | (၃၆) | ပဲခူး | ၁၃၃၈ | ဒေါ်နန်းခင်မြင့်ရီ ရတနာ့စိုင်းကောင်း မြတ်ကျော်ကျောက်မျက် |
| ၁၀ | (၃၇) | ပဲခူး | ၄၁၇၀ | ဦးဝဏ္ဏထွန်း၊ မြန်မာမဟာထွန်း |
| ၁၁ | (၃၈) | ကျောက်တံခါး | ၃၁၉၃ | ဦးကျော်သာဦး၊ Resources Group Construction |
| ၁၂ | (၃၉) | ကျောက်တံခါး | ၂၃၁၁ | ဦးရဲထွဋ်၊ Resources Group Mining |
| ၁၃ | (၄၀) | ကျောက်တံခါး | ၅၄၃၀ | ဦးမောင်ကျေး Resourcess Group Logistics |
| ၁၄ | (၄၂) | ကျောက်တံခါး | ၁၆၄၀ | ဦးသန်းထွန်း (Kaung Myanmar Aung Forestry Enterprise) |

| စဉ် | လုပ်ကွက် | မြို့နယ် | ဧက | တင်ဒါအောင်မြင်သည့် ကုမ္ပဏီ/ အဖွဲ့အစည်းအမည် |
|---|---|---|---|---|
| ၁၅ | (၄၉) | တနင်္သာရီ | ၁၁၀၀ | ဦးလှသန်း၊ မြည်မြိုး ထွန်းအင်တာနေရှင်နယ် |
| ၁၆ | (၅၀) | တနင်္သာရီ | ၁၀၅၀ | ဦးလှသန်း၊ မြည်မြိုး ထွန်းအင်တာနေရှင်နယ် |
| ၁၇ | (၅၁) | ဘုတ်ပြင်း | ၃၃၀၀ | ဦးအေးမောင်၊ ပိုအောင်းကုမ္ပဏီ |
| ၁၈ | (၆၃) | တာချီလိတ် | ၁၀၀၀ | ဦးထွန်းထွန်းနှင့် ဒေါ်ယဉ်မြတ် |
| ၁၉ | (၆၈) | ပုသိမ် | ၂၄၈၀ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၀ | (၆၉) | ပုသိမ် | ၂၇၂၇ | ဦးဇော်ဝင်း၊ နေဝန်းမြင့်ကုမ္ပဏီ |
| ၂၁ | (၇၀) | ပုသိမ် | ၃၂၃၇ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၂ | (၇၁) | ပုသိမ် | ၂၄၅၃ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၃ | (၇၄) | ပုသိမ် | ၃၂၀၀ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၄ | (၇၅) | ပုသိမ် | ၁၆၄၆ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၅ | (၇၆) | ပုသိမ် | ၂၀၁၃ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၆ | (၇၇) | ပုသိမ် | ၂၂၀၃ | ဦးဇင်းကွန့်ဘော Integrate Technical System |
| ၂၇ | (၇၈) | သာ ပေါင်း | ၃၅၁၃ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၈ | (၇၉) | သာ ပေါင်း | ၃၇၉၃ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |
| ၂၉ | (၈၀) | သာပေါင်း | ၁၃၇၂ | Mr.Prayad Champucha (Advance Agro Holding Co.,Ltd) |

| စဉ် | လုပ်ကွက် | မြို့နယ် | ဧက | တင်ပြလျှောက်ထားသည့် ကုမ္ပဏီ/ အဖွဲ့အစည်းအမည် |
|---|---|---|---|---|
| ၃၀ | (၈၂) | ပေါ့ဗဟာ | ၁၉၁၇၂ | TEO ZHMEI DAPHNE<br>Evergreen Forest Myanmar |
| ၃၁ | (၈၃) | ပေါ့ဗဟာ | ၄၀၂၃ | ဦးနေလင်းဦး ၊ မျိုးဇင်ဇော အပြည်ပြည်ဆိုင်ရာ |
| ၃၂ | (၈၄) | ပေါ့ဗဟာ | ၄၉၁၅ | ဦးနေလင်းဦး ၊ မျိုးဇင်ဇော အပြည်ပြည်ဆိုင်ရာ |
| ၃၃ | (၈၇) | ပေါ့ဗဟာ | ၂၇၇၃ | ဦးနေလင်းဦး ၊ မျိုးဇင်ဇော အပြည်ပြည်ဆိုင်ရာ |
| ၃၄ | (၅၆) | လေးမျက်နှာ | ၁၄၀၀ | ဒေါ်နန်းလွင် ၊ စုပေါင်းမေတ္တာ |
| ၃၅ | (၅၇) | လေးမျက်နှာ | ၁၁၀၉ | ဒေါ်နန်းလွင် ၊ စုပေါင်းမေတ္တာ |
| | စုစုပေါင်း | | ၈၇,၀၇၉ | |

ဒေါက်တာညွှန့်ကျော်
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

စာအမှတ် ၊ လင / စခ / ၀၁၅ ( ၄၃၁ - ၄၆၀ / ၂၀၁၅ )
ရက် စွဲ ၊ ၂၀၁၅ ခုနှစ် ၊ ဇန်နဝါရီလ ၂၂ ရက်

မိတ္တူကို
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံးအဖွဲ့ ၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူး ၊ .................................... ဌာန
ညွှန်ကြားရေးမှူး/ဒု-ညွှန်ကြားရေးမှူး၊သစ်တောဦးစီးဌာန၊......................တိုင်းဒေသကြီး/
ပြည်နယ် ၊.................မြို့
သက်ဆိုင်သူများ
အမိန့်ကြော်ငြာစာတွဲ
မျှောစာတွဲ
ရုံးလက်ခံ

အမိန့်အရ

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( ကျော်ကျော်လွင် ၊ ညွှန်ကြားရေးမှူး(သဘာဝတော/ပိုက်ခင်း))

ပူးတွဲ (ခ)

Integrated Technical Systems Co.,Ltd. မှ တင်ဒါအောင်မြင်သည့်လုပ်ကွက်စာရင်း

| စဉ် | တင်ဒါ လုပ်ကွက် အမှတ် | မြို့နယ် | တည်နေရာ | ဧရိယာ (ဧက) | မှတ်ချက် |
| --- | --- | --- | --- | --- | --- |
| ၁ | ၇၇ | သာပေါင်း | ကျောက်ချောင်းကြီးကြိုးဝိုင်း အကွက် (၂၇၊ ၂၈၊ ၃၀-၃၂) | ၂၂၆၃ | |
| စုစုပေါင်း | | | | ၂၂၆၃ | |

ပုံစံ ၂

Integrated Technical Systems Co.,Ltd ၏ နှစ်အလိုက် စိုက်ပျိုးမည့် ဧကစာရင်း

| စဉ် | ခုနှစ် | သစ်မျိုး | စိုက်ပျိုးမည့်ဧက | | | |
|---|---|---|---|---|---|---|
| | | | လုပ်ကွက် (၇၇) | လုပ်ကွက် (-) | လုပ်ကွက် (-) | စုစုပေါင်း |
| ၁ | ၂၀၁၅-၁၆ | အကြီးမြန်သစ်ပင်၊ Acacia/ Eucalyptus နှင့်ယမနေ | ၅၀၀ | - | - | ၅၀၀ |
| ၂ | ၂၀၁၆-၁၇ | 〃 | ၅၁၀ | - | - | ၅၀၀ |
| ၃ | ၂၀၁၇-၁၈ | 〃 | ၅၀၀ | - | - | ၅၀၀ |
| ၄ | ၂၀၁၈-၁၉ | 〃 | ၄၀၀ | - | - | ၄၀၀ |
| ၅ | ၂၀၁၉-၂၀ | | ၃၈၃ | - | - | ၃၈၃ |
| | | စုစုပေါင်း | ၂၂၈၃ | - | - | ၂၂၈၃ |

ပူးတွဲ(၃)

Integrated Technical Systems Co.,Ltd မှ နေပြည်တော်မြန်မာ့စီးပွားရေးဘဏ်သို့ မြေအသုံးချမှုပရီမီယံကြေး ( Land Use Premium ) ပေးသွင်းမှုမှတ်တမ်း

| စဉ် | အကြောင်းအရာ | ပေးသွင်းရက်စွဲ | တစ်ဧကနှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သန်းပေါင်း) | ချလံအမှတ်နှင့်ရက်စွဲ | ငွေစာရင်းအမှတ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
| --- | --- | --- | --- | --- | --- | --- | --- | --- |
| ၁ | ပထမအရစ် ၃၀% | | ၃၀၀၀၀ | ၂၀.၅၄၇ | | MD-010613 | | |
| | | | | | | | | |
| | | | | | | | | |
| | | | | | | | | |
| | ဒုတိယအရစ် ၃၀% | | ၃၀၀၀၀ | ၂၀.၅၄၇ | | MD-010613 | | |
| | | | | | | | | |
| | | | | | | | | |
| | | | | | | | | |
| | တတိယအရစ် ၄၀% | | ၃၀၀၀၀ | ၂၇.၃၉၆ | | MD-010613 | | |
| | | | | | | | | |
| | | | | | | | | |
| | | | | | | | | |
| | စုစုပေါင်း | | | ၆၈.၄၉၀ | | | | |

ပူးတွဲ(၄)

Integrated Technical Systems Co.,Ltd မှ နှစ်စဉ်မြေငှားရမ်းခငွေများ(Annual Land Lease Rental)
ပေးသွင်းမှုမှတ်တမ်း

| စဉ် | ပေးသွင်း ရက်စွဲ | မည်သည့် ဘဏ္ဍာနှစ်အတွက် ပေးသွင်းခြင်း | ငှားရမ်းသည့် ဧရိယာ (ဧက) | တစ်ဧက နှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သိန်း ပေါင်း) | ချလံအမှတ် နှင့်ရက်စွဲ | ဘဏ်အမည် မြို့နယ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| | | ၂၀၁၅-၁၆ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | ၂၀၁၆-၁၇ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | ၂၀၁၇-၁၈ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | ၂၀၁၈-၁၉ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | ၂၀၁၉-၂၀ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |

ပူးတွဲ(၄)အဆက်

Integrated Technical Systems Co.,Ltd. မှ နှစ်စဉ်မြေငှားရမ်းခငွေများ(Annual Land Lease Rental) ပေးသွင်းမှုမှတ်တမ်း

| စဉ် | ပေးသွင်းရမည့်ရက်စွဲ | မည်သည့် ဘဏ္ဍာနှစ်အတွက် ပေးသွင်းခြင်း | ငှားရမ်းသည့် မြေဧရိယာ (ဧက) | တစ်ဧက နှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သန်းပေါင်း) | ချလံအမှတ် နှင့်ရက်စွဲ | ဘဏ်အမည် မြို့နယ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| ၁ | | ၂၀၂၀-၂၁ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၁-၂၂ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၂-၂၃ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၃-၂၄ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၄-၂၅ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |



ပူးတွဲ(၄)အဆက်

Integrated Technical Systems Co.,Ltd. မှ နှစ်စဉ်မြေငှားရမ်းခငွေများ(Annual Land Lease Rental) ပေးသွင်းမှုဇယားပုံစံ

| စဉ် | ပေးသွင်းရက်စွဲ | မည်သည့်ဘဏ္ဍာနှစ်အတွက် ပေးသွင်းခြင်း | ငှားရမ်းသည့် | | | ပြေစာအမှတ်နှင့်ရက်စွဲ | ဘဏ်အမည်မြို့နယ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| | | | ဧရိယာ (ဧက) | တစ်ဧကနှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သန်းပေါင်း) | | | | |
| ၁ | | ၂၀၂၅-၂၆ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၆-၂၇ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၇-၂၈ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၈-၂၉ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | ၂၀၂၉-၃၀ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |

ပူးတွဲ(၄)အဆက်

Integrated Technical Systems Co.,Ltd. မှ နှစ်စဉ် မြေငှားရမ်းခငွေများ(Annual Land Lease Rental)
ပေးသွင်းမှုမှတ်တမ်း

| စဉ် | ပေးသွင်း ရက်စွဲ | စည်သည့် ဘဏ္ဍာနှစ်အတွက် ပေးသွင်းခြင်း | ငှားရမ်းသည့် | | | ချလံအမှတ် နှင့်ရက်စွဲ | ဘဏ်အမည် မြို့နယ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| | | | ဧရိယာ (ဧက) | တစ်ဧက နှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သန်း ပေါင်း) | | | | |
| ၁၆ | | ၂၀၃၀-၃၁ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | | | | | | | | |
| [illegible] | | ၂၀၃၁-၃၂ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | | | | | | | | |
| [illegible] | | ၂၀၃၂-၃၃ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | | | | | | | | |
| [illegible] | | ၂၀၃၃-၃၄ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | | | | | | | | |
| [illegible] | | ၂၀၃၄-၃၅ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| | | | | | | | | | |
| | | | | | | | | | |

ပူးတွဲ(၄)အဆက်

Integrated Technical Systems Co.,Ltd. မှ နှစ်စဉ်မြေငှားရမ်းခငွေများ(Annual Land Lease Rental)
ပေးသွင်းမှုမှတ်တမ်း

| စဉ် | ပေးသွင်း ရက်စွဲ | မည်သည့် ဘဏ္ဍာနှစ်အတွက် ပေးသွင်းခြင်း | ငှားရမ်းသည့် ဧရိယာ (ဧက) | တစ်ဧက နှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သန်း ပေါင်း) | ချလံအမှတ် နှင့်ရက်စွဲ | ဘဏ်အမည် မြို့နယ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| ၂၁ | | ၂၀၃၅-၃၆ | ၂၂၈၃ | ၆၀၀၀ | ၉.၁၃၂ | | | | |
| ၂၂ | | ၂၀၃၆-၃၇ | ၂၂၈၃ | ၆၀၀၀ | ၉.၁၃၂ | | | | |
| ၂၃ | | ၂၀၃၇-၃၈ | ၂၂၈၃ | ၆၀၀၀ | ၉.၁၃၂ | | | | |
| ၂၄ | | ၂၀၃၈-၃၉ | ၂၂၈၃ | ၆၀၀၀ | ၉.၁၃၂ | | | | |
| ၂၅ | | ၂၀၃၉-၄၀ | ၂၂၈၃ | ၆၀၀၀ | ၉.၁၃၂ | | | | |

ပူးတွဲ(၄)ဆက်

Integrated Technical Systems Co.,Ltd. မှ နှစ်စဉ်မြေငှားရမ်းခငွေများ (Annual Land Lease Rental)
ပေးသွင်းမှုမှတ်တမ်း

| စဉ် | ပေးသွင်း ရက်စွဲ | မည်သည့် ဘဏ္ဍာနှစ်အတွက် ပေးသွင်းခြင်း | ငှားရမ်းသည့် ဧရိယာ (ဧက) | တစ်ဧက နှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သန်းပေါင်း) | ချလံအမှတ် နှင့်ရက်စွဲ | ဘဏ်အမည် မြို့နယ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| ၂၆ | | ၂၀၄၀-၄၁ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| ၂၇ | | ၂၀၄၁-၄၂ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| ၂၈ | | ၂၀၄၂-၄၃ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| ၂၉ | | ၂၀၄၃-၄၄ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |
| ၃၀ | | ၂၀၄၄-၄၅ | ၂၂၈၃ | ၄၀၀၀ | ၉.၁၃၂ | | | | |

ပူးတွဲ(၄)အဆက်

Integrated Technical Systems Co.,Ltd. မှ နှစ်စဉ် မြေငှားရမ်းခငွေများ (Annual Land Lease Rental) ပေးသွင်းမှုမှတ်တမ်း

| စဉ် | ပေးသွင်းရက်စွဲ | မည်သည့်ဘဏ္ဍာနှစ်အတွက်ပေးသွင်းခြင်း | ငှားရမ်းသည့် | | | ချလံအမှတ်နှင့်ရက်စွဲ | ဘဏ်အမည် မြို့နယ် | အတည်ပြုသူ၏ လက်မှတ် အမည် ရာထူးအဆင့် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| | | | ဧရိယာ (ဧက) | တစ်ဧကနှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သန်းပေါင်း) | | | | |
| ၃၁ | | ၂၀၄၅-၄၆ | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| ၃၂ | | ၂၀၄၆-၄၇ | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| ၃၃ | | ၂၀၄၇-၄၈ | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |

(၅) ဖုန်းနံပါတ် ၀၁-၅၀၃၁၀၅၊၀၁-၅၃၆၅၅၉၊၀၀-၅၃၃၆၆၀

(၆) ဖက်(စ်)နံပါတ် ၀၁-၅၀၃၁၀၅

(၇) E.mail tango95@gmail.com

အပိုဒ် ၂၅ လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ

၂၅-၁ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍ မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့် နှင့် မူလဘူတ အခွင့်အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနည်းငယ်မျှသာ ... ပြသည့် သဘောတူညီချက်အပေါ်အခြေခံ ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ ထားမြစ်ခြင်း သို့မဟုတ် ကန့်သတ်ခြင်း မပြုနိုင်။

အပိုဒ် ၂၆ အထွေထွေ

၂၆-၁ နိုင်ငံတော်သမ္မတရုံး၏ ၃၀-၅-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၃(၃)/၇/သမ္မတရုံးဖြင့် ပြည်တွင်း/ပြည်ပရင်းနှီးမြှုပ်နှံမှုဖြင့် သစ်တောမြေများအား ငှားရမ်းဆောင်ရွက်မည့် စိုက်ခင်း/စီးပွားရေးလုပ်ငန်းများကို အိတ်ဖွင့်တင်ဒါစနစ်ဖြင့် ဆောင်ရွက်နိုင်ရန် လုပ်ငန်းသုံး လုပ်ထုံးလုပ်နည်း နှင့် အမှတ်ပေးစနစ်များကို စနစ်တကျမှတ်တမ်းထားရှိ ဆောင်ရွက်သွားရန် အကြောင်းကြားခဲ့ပါသည်။

၂၆-၂ ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများအားလုံးကို လွှမ်းမိုးစေရမည်။

၂၆-၃ ဤသဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တဒေသအဖြစ် နှဘ်ယူရမည် ။

၂၆-၄ ဤသဘောတူစာချုပ်ကို မိတ္တူနှစ်စောင်တွင် လက်မှတ်ရေးထိုးပြီးစာချုပ်အသီးသီးသည် ဥပဒေအရ တူညီမှုတစ္စာ တရားဝင်လျှက် စာချုပ်ဝင်တစ်ဦးစီအတွက် မူရင်းတစ်စောင်အဖြစ် သတ်မှတ်ရမည် ။

အပိုဒ် ၂၇ လွှမ်းမိုးသည့် ဥပဒေ

၂၇-၁ ဤစာချုပ်ပါ ထည့်သွင်းစဉ်းစားရမည့် အားလုံးသော အဓိပ္ပါယ်ဖွင့်ဆိုမှုနှင့် ရှင်းလင်းချက်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ ရိုးမိုးတရားဝင်စေရမည်။

ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင် နှစ်ဦးစလုံး၏ တရားဝင်ကိုယ်စားလှယ်များမှ ကိုယ်တိုင် ဖတ်ရှုနားလည်သဘောတူလက်ခံကြသည့်အတိုင်း စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်တွင် ဖော်ပြထားသည့် ၂၀၁၆ခုနှစ် ၊ မေလ ၂၅ ရက်နေ့တွင် အောက်ဖော်ပြပါ အသိသက်သေများ၏ ရှေ့မှောက်တွင် မိမိ၏ရုံးတံဆိပ်များ အသီးသီးခပ်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

ပူးတွဲ(၅)

## Integrated Technical Systems Co.,Ltd. ၏ လုပ်ငန်းအာမခံငွေပေးသွင်းခြင်းနှင့် ပြန်လည်ထုတ်ပေးမှုမှတ်တမ်း

| စဉ် | ပေးသွင်းရက်စွဲ | မည်သည့်ဘဏ္ဍာနှစ်အတွက်ပေးသွင်းခြင်း | ငှားရမ်းမှု | | | ချလံအမှတ်နှင့်ရက်စွဲ | အတည်ပြုသူ၏လက်မှတ်အမည်ရာထူးအဆင့် | အာမခံငွေ ပြန်လည်ထုတ်ပေးခြင်း | | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | ဧရိယာ (ဧက) | တစ်ဧကနှုန်း (ကျပ်) | ပေးသွင်းငွေ (ကျပ်သိန်းပေါင်း) | | | မြေ (ဧက) | ပြုပြင် % | ရက်စွဲ | ထုတ်ပေးငွေ | မှတ်ချက် |
| ၁ | | ၂၀၁၅-၁၆ | ၅၀၀ | ၅၀၀၀၀ | ၂၅,၀၀၀ | | | | | | | |
| | | ၂၀၁၆-၁၇ | ၅၀၀ | ၅၀၀၀၀ | ၂၅,၀၀၀ | | | | | | | |
| | | ၂၀၁၇-၁၈ | ၅၀၀ | ၅၀၀၀၀ | ၂၅,၀၀၀ | | | | | | | |
| | | ၂၀၁၈-၁၉ | ၄၀၀ | ၅၀၀၀၀ | ၂၀,၀၀၀ | | | | | | | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
**သစ်တောဦးစီးဌာန**
ညွှန်ကြားရေးမှူးချုပ်ရုံး

စာအမှတ်၊ ၁၀၀/၈၈/၁၃၅ (၉၆၆၈ -၆၁/၂၀၁၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မေလ ၁၇ ရက်

သို့

ဦးဇော်ဝင်း
မန်နေဂျင်းဒါရိုက်တာ
နေဝန်းမြတ်ကုမ္ပဏီ

အကြောင်းအရာ။ တင်ဒါအောင်မြင်ထားသည့်သစ်တောမြေရှိသစ်တောစိုက်ခင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဖက်စပ်ဆောင်ရွက်ခွင့် တင်ပြခြင်း

ရည်ညွှန်းချက်။ နေဝန်းမြတ်ကုမ္ပဏီ၏ ၂၆-၄-၂၀၁၆ ရက်စွဲပါစာအမှတ်၊ 055/ NWM (Plant:)/ 2016

အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ နေဝန်းမြတ်ကုမ္ပဏီမှ တင်ဒါအောင်မြင်သည့် ဂွမြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ အကွက်၄၄၊ ၄၅၊ ၄၆၊ ၅၁၊ ၅၃ ရှိ တင်ဒါလုပ်ကွက်အမှတ် (ဖ၉)။ (၂၇၂၇)ဧကအား စင်္ကာပူနိုင်ငံ၊ Global Greeneries Pte.Ltdနှင့် အကျိုးတူဖက်စပ် ဆောင်ရွက်ရန် လက်မှတ်ရေးထိုးပြီးဖြစ်သဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားနိုင်ရန်အတွက် ထောက်ခံပေးပါရန် ရည်ညွှန်းစာပါဖြင့် တင်ပြလာမှုအပေါ် လိုအပ်သည်များ ဆက်လက်ဆောင်ရွက်နိုင်ပါရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်း၊ Open Tender အောင်မြင်ကြောင်း အမိန့်ကြော်ငြာစာနှင့် လုပ်ငန်းဆောင်ရွက်ခွင့် စာချုပ်မိတ္တူများပူးတွဲ၍ ထောက်ခံပေးပို့ထားပြီးဖြစ်ပါကြောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားသည့်မိတ္တူတပူးတွဲ၍ အကြောင်းကြားအပ်ပါသည်၊

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မျိုးမင်း၊ ညွှန်ကြားရေးမှူး(သဘာဝတော/စိုက်ခင်း) )

မိတ္တူကို/

ညွှန်ကြားရေးမှူးချုပ်ရုံးစာတွဲ ၊ သစ်တောဦးစီးဌာန
ရုံးလက်ခံ
မျှောစာတွဲ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်　(သစ်တော) ၃/ပ၇(စ)( ၂၈၃ /၂၀၁၆)
ရက်စွဲ　၂၀၁၆ ခုနှစ်၊ မေလ ၁၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။　**တင်ဒါအောင်မြင်ထားသည့် သစ်တောမြေရှိ သစ်တောစိုက်ခင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဖက်စပ်ဆောင်ရွက်ခွင့် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။　နေဝန်းမြတ်ကုမ္ပဏီ၏ ၂၆ - ၄ - ၂၀၁၆ ရက်စွဲပါစာအမှတ်၊ 055 / NWM (Plant:) / 2016

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ နေဝန်းမြတ်ကုမ္ပဏီမှ ပုသိမ်မြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ အကွက်(၄၄၊ ၄၅၊ ၄၆၊ ၅၁၊ ၅၄)ရှိ တင်ဒါလုပ်ကွက်အမှတ်(၆၉)၊ (၂၇၂၇)ဧကအား စင်္ကာပူနိုင်ငံ၊ Global Greeneries Pte.Ltd နှင့် အကျိုးတူ ဖက်စပ်ဆောင်ရွက်ရန် လက်မှတ်ရေးထိုးပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားနိုင်ရန်အတွက် ထောက်ခံပေးပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ နေဝန်းမြတ်ကုမ္ပဏီသည် ပြည်တွင်း / ပြည်ပရင်းနှီးမြှုပ်နှံမှုဖြင့် သစ်တောမြေနှစ်ရှည် ငှားရမ်းခြင်း ပထမအကြိမ် အိတ်ဖွင့်တင်ဒါတွင် ပုသိမ်မြို့နယ် ၊ ကျောက်ချောင်းကြီးကြိုးဝိုင်းအတွင်း ပုဂ္ဂလိကစိုက်ခင်း (၂၇၂၇)ဧက စိုက်ပျိုးရန် တင်ဒါအောင်မြင်ခဲ့သည့် ကုမ္ပဏီဖြစ်သဖြင့်လည်းကောင်း၊ အစိုးရအဖွဲ့မှ မူအရခွင့်ပြုပြီးဖြစ်သဖြင့်လည်းကောင်း၊ နေဝန်းမြတ်ကုမ္ပဏီနှင့် စင်္ကာပူနိုင်ငံ Global Greeneries Pte.Ltd နှင့် အကျိုးတူရင်းနှီးမြှုပ်နှံခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိကြောင်း၊ Open Tender အောင်မြင်ကြောင်း အမိန့်ကြော်ငြာစာနှင့် လုပ်ငန်းဆောင်ရွက်ခွင့် စာချုပ်မိတ္တူများ ပူးတွဲလျက်ထောက်ခံပေးပို့အပ်ပါသည်။

၁၁/၅/၂၀၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဝင်းဇော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
✓ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

D:\16 KW\UMM\5\11-5-16.docx

သစ်တောဦးစီးဌာန

နှင့်

ဧနဝန်းမြတ်ကုမ္ပဏီ တို့အကြားချုပ်ဆိုသည့်

ပုဂ္ဂလိကသစ်တောကိုက်ခင်းတည်ထောင်ရန်

သစ်တောနယ်မြေအတွင်းရှိ

မြေ (၂၇၂၇ )ဧကအား နှစ်ရှည်မြေငှားရမ်းခြင်း

နှစ်ဘက်သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၊ ၂၅ ရက်

ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ လုပ်ကိုင်လုပ်ဆောင်ခွင့်ပြုသည့် မြန်မာ့ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ရရှိပြီးဖြစ်ပါသည်။ (နောက်ဆက်တွဲ - ၈)

"အငှားချထားခြင်းခံရသူ" သည် ဤသဘောတူစာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ငွေကြေးအင်အားပြည့်စုံသူဖြစ်ကြောင်း အာမခံပါသည်။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရလုပ်ပိုင်ခွင့်ရှိသော အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

အပိုဒ် ၄ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၄-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၊ သက်ဆိုင်ရာအစိုးရဌာန အုပ်ချုပ်ရေးအဖွဲ့များထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

အပိုဒ် ၅ အငှားချထားသည့် မြေနှင့် မြေငှားရမ်းခြင်း သက်တမ်းကာလ

၅-၁ အငှားချထားသည့်မြေတည်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကိုယ်စား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံခန့်ခွဲပိုင်ခွင့်ရှိသော ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်ရှိ ကျောက်ချောင်းကြီးကြိုးဝိုင်းဟု သတ်မှတ်ထားသောမြေရှိ နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားသော မြေပုံတွင် အမှတ်အသား ပြထားသည့် တောင်အတွင်းရှိ မြေဧရိယာ (၂၇၂၇) ဧက ဖြစ်ပါသည်။

၅-၂ ဤသဘောတူစာချုပ်ပါ မြေငှားရမ်းခြင်းသက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး(၃၀)နှစ်ဖြစ်သည်။

၅-၃ အငှားချထားသည့် ကာလတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

အပိုဒ် ၆ ငှားရမ်းသက်တမ်းကာလတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း

၆-၁ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် သက်တမ်းကာလမှာ ၂၀၁၈ ခုနှစ် ၊ မတ်လ ၂၅ ရက်မှ ၂၀၄၈ ခုနှစ် မတ်လ ၂၅ ရက် ခုနှစ်ထိ (၃၀)နှစ် သက်တမ်းဖြစ်ပြီး တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်း (၂)ကြိမ် တိုးမြှင့်နိုင်သည်။

၆-၂ ဤစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားရှိရမည်။ သတ်မှတ်ထားသည့် မှတ်ပုံတင်စရိတ် ကျသင့်ငွေများကို အငှားချထားခြင်းခံရသူမှ ကျခံရမည်ဖြစ်ပါသည်။

အပိုဒ် ၇ စာချုပ်သက်တမ်းတိုးခြင်း

၇-၁ ဤစာချုပ်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှစ၍ ကနဦး(၃၀)နှစ်ဖြစ်သည်။ တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့်သက်တမ်း(၂)ကြိမ် တိုးမြှင့်နိုင်သည်။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်းကုန်ဆုံးမည့်နေ့မတိုင်မီ အနည်းဆုံး(၃)လကြိုတင်၍စာဖြင့်

အကြောင်းကြားပေးပြရမည်။ ကနဦး၁၀ နှစ် ငှားရမ်းပြီး နောက်ထပ်သက်တမ်းကာလ တိုးမြှင့် ငှားရမ်းရေးအတွက် နှစ်ဘက်ညှိနှိုင်းဆောင်ရွက်ရမည်။ ငှားရမ်းသက်တမ်းပြီးဆုံးပြီး မြေနှင့် ပြန်မအပ်နိုင်ခင်ရင်းနှီးမြှုပ်နှံမှုအောက်မရှိသည့် တင်ပြ၍ အစည်းပြီးနောက်ရှိသော အညာဉ်ပြန်ပေးရမည်။

## အပိုဒ် ၈ အကျိုးသက်ရောက်သည့်နေ့

၈-၁ ဤသဘောတူစာချုပ်သည် စာချုပ်ပါပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး အတည်ပြု၍ လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

## အပိုဒ် ၉ မြေအသုံးချမှုပရီမီယံ

၉-၁ "မြေအငှားချထားခြင်းခံရသူ" သည် မြေအသုံးချမှုအတွက် ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၃၀၀၀၀ (ကျပ်သုံးသောင်းတိတိ) နှုန်းဖြင့် မြေ ၂၇၂၇ ဧကအတွက် ငွေကျပ် ၈၁,၈၁၀,၀၀၀ သိန်း (ကျပ်ရှစ်ဆယ့်တစ်ဒသမရှစ်ဘစ်သုညသန်းတိတိ)ကို "အငှားချထားသူ" သို့ အောက်ပါအတိုင်း ပေးသွင်းရမည်။

(က) ပထမအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀%ဖြစ်သော ကျပ် ၂၄.၅၄၃ သိန်း (ကျပ်နှစ်ဆယ့်လေးဒသမငါးလေးသုံးသန်းတိတိ)ကို သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် ပေးသွင်းပြီးဖြစ်ရမည်။

(ခ) ဒုတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ဖြစ်သော ကျပ် ၂၄.၅၄၃ သိန်း (ကျပ်နှစ်ဆယ့်လေးဒသမငါးလေးသုံးသန်းတိတိ)ကို သဘောတူစာချုပ် လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၆)လအတွင်း ပေးချေရမည်။

(ဂ) တတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၄၀% ဖြစ်သော ကျပ် ၃၂.၇၂၄ သိန်း (ကျပ်သုံးဆယ့်နှစ်ဒသမခုနစ်နှစ်လေးသန်းတိတိ) ကို သဘောတူစာချုပ် လက်မှတ်ရေးထိုးချုပ်ဆိုပြီး (၁၂)လ အတွင်း ပေးချေရမည်။

(ဃ) မြေအသုံးချမှု ပရီမီယံကြေးပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းအမှတ် MD-010613 သို့ ပေးသွင်းရမည်။

၉-၂ မြေအသုံးချမှု ပရီမီယံကြေးကို သတ်မှတ်ကာလအတွင်း ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေ ကျပ် ၂၀၀၀ (ကျပ်နှစ်ထောင်တိတိ)ပေးဆောင်ရမည်။

## အပိုဒ် ၁၀ နှစ်စဉ်ငှားရမ်းခပေးချေခြင်း

၁၀-၁ "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့် မြေဧရိယာ ၂၇၂၇ ဧကအတွက် ပထမနှစ် မြေငှားရမ်းခကို တစ်ဧကလျှင် ၄၀၀၀ (ကျပ်လေးထောင်တိတိ) နှုန်းဖြင့် ကျပ် ၁၀.၉၀၈ သိန်း (ကျပ် တစ်ဆယ်ဒသမကိုးသုညရှစ်သန်းတိတိ)ကို အငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၃၀)အတွင်း ပေးသွင်းရမည်။ နောင်နှစ်များတွင်လည်း နှစ်စဉ် သက်တမ်းမစေ့မီ ရက်ပေါင်း (၃၀) အတွင်း ကြိုတင်၍ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၂၀၀၀ (ကျပ်နှစ်ထောင်တိတိ)နှုန်း ပေးဆောင်ရမည်။

